

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်




ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၇၀ / ၂၀၁၄ ။ ၂၀၁၄ ခုနှစ်၊ မတ် လ ၂၄ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးမင်းလဂွန်းအိမ်

(ခ) **အဘ အမည်** ဦးသက်လွင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၀/မလမ(နိုင်) ၀၀၆၀၉၉

(ဃ) **နေရပ်လိပ်စာ** အမှတ် ၇၇(ဒီ)၊ ရှင်စောပုလမ်း၊ အောင်ချမ်းသာရပ်ကွက်၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Diamond Mayson Industries Co., Ltd. (ဒိုင်းမွန်းမေဆမ် အင်ဒတ်စ်ထရီးစ် ကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** ဘိယာထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မြေကွက်အမှတ် (၃၃+၃၆)၊ ညောင်အင်းကျေးရွာအုပ်စု၊ ပဲခူးမြို့နယ်၊ ပဲခူးခရိုင်၊ ပဲခူးတိုင်းဒေသကြီး ရှိ မြေ (၁၀) ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၈၈၀၃.၁၈ သန်း(အမေရိကန်ဒေါ်လာ ၆.၃၆ သန်းအပါအဝင် ကျပ်ရှစ်ထောင်ရှစ်ရာသုံးသန်းနှင့်တစ်သိန်းရှစ်သောင်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၂၄ /၂၀၁၄ (မနသ)
၂၀၁၄ ခုနှစ် မတ်လ ၂၄ ရက်

၁။ Diamond Mayson Industries Co., Ltd. (ဒိုင်းမွန်းမေဆမ် အင်ဒတ်စ်ထရီးစ် ကုမ္ပဏီလီမိတက်)မှ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးခရိုင်၊ ပဲခူးမြို့နယ်၊ ညောင်အင်းကျေးရွာအုပ်စု၊ မြေကွက်အမှတ် (၃၃ + ၃၆) ရှိ မြေဧရိယာ (၁၀)ဧကတွင် ဘီယာထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက် အား (၅-၃-၂၀၁၄)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၈/၂၀၁၄) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Diamond Mayson Industries Co., Ltd. (ဒိုင်းမွန်းမေဆမ် အင်ဒတ်စ်ထရီးစ် ကုမ္ပဏီလီမိတက်) အား ဘီယာ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၇၀/၂၀၁၄ ကို ထုတ်ပေးလိုက်သည်။

၂။ Diamond Mayson Industries Co., Ltd. (ဒိုင်းမွန်းမေဆမ် အင်ဒတ်စ်ထရီးစ် ကုမ္ပဏီလီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှုလုပ်ငန်း စီးပွားဖြစ်စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့် အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း

အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ) အရ ဝင်ငွေခွန် စည်းကြပ်ရန် အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျှော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျှော့ နှုန်းထားများကို ဤကော်မရှင် သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဈ)အရ လုပ်ငန်း တည်ဆောက်မှုပြီးစီး၍ ပထမ သုံးနှစ်အတွက် ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရန် တင်သွင်းသည့် ကုန်ကြမ်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင် သို့ တင်ပြ လျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ) အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု

စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် လိုက်နာ ဆောင်ရွက်ရမည်။

၄။ Diamond Mayson Industries Co., Ltd. (ဒိုင်းမွန်းမေဆမ် အင်ဒတ်စ်ထရီးစ် ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Diamond Mayson Industries Co., Ltd. (ဒိုင်းမွန်းမေဆမ် အင်ဒတ်စ်ထရီးစ် ကုမ္ပဏီ လီမိတက်) သည် ဤအဆိုပြုလုပ်ငန်း ၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေ အငှားချထားသူ ဦးမင်းဗညားစန်း နှင့် အငှားချထားခြင်းခံရသူ Diamond Mayson Industries Co., Ltd. (ဒိုင်းမွန်းမေဆမ် အင်ဒတ်စ်ထရီးစ် ကုမ္ပဏီ လီမိတက်) တို့ ချုပ်ဆိုမည့် မြေ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ် ရေးထိုး၍ **ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်** ပြီးသည့်အခါ ယင်း သဘောတူ စာချုပ်မိတ္တူ (၅)စောင်ကို ဤကော်မရှင် သို့ **မပျက်မကွက်** ပေးပို့ တင်ပြရမည်။

၇။ မြေငှားရမ်းခကို လုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့မှစ၍ တစ်လလျှင် ကျပ် ၁,၅၀၀,၀၀၀/ (ကျပ် တစ်ဆယ့်ငါးသိန်းတိတိ)နှုန်းဖြင့် ပေးချေရပါမည်။ မြေကွက်အား အငှားချထား ကာလကုန်ဆုံးပြီး (၁၅)ရက်အတွင်း အငှားချထားခြင်းခံရသူက မိမိ၏ စရိတ်ဖြင့် ဝယ်ယူတပ်ဆင် ထားသော ရွှေ့ပြောင်းနိုင်သည့် ပစ္စည်းအားလုံးအား ဖြုတ်ယူ၍ လွှဲပြောင်းပေးစဉ်က အခြေအနေ အတိုင်း အငှားချထားသူသို့ အဖိုးစားနား မပါရှိဘဲ ပြန်လည် လွှဲပြောင်းပေးအပ်ရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရ မှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၉။ Diamond Mayson Industries Co., Ltd. (ဒိုင်းမွန်းမေဆမ် အင်ဒတ်စ်ထရီးစ် ကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် သဘာဝ ပတ်ဝန်းကျင် ထိခိုက်မှု မရှိစေရေး၊ ဒေသခံ ပြည်သူများကျန်းမာရေး ထိခိုက်မှု မရှိစေရေးအတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)၊ ကျန်းမာရေး ထိခိုက်မှု ဆန်းစစ်ခြင်း (Health Impact Assessment-HIA)၊ လူမှုရေး ထိခိုက်မှု ဆန်းစစ်ခြင်း (Social Impact Assessment-SIA)၊ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်ရည်များ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့်

အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး စီမံချက် (Environmental Management Plan-EMP) ကို ရေးဆွဲ တင်ပြရန် နှင့် ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင် နှင့် သက်ဆိုင်ရာ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန တို့သို့ ပေးပို့အစီရင်ခံရမည်။

၁၀။ Diamond Mayson Industries Co., Ltd. (ဒိုင်းမွန်းမေဆမ် အင်ဒတ်စ်ထရီးစ် ကုမ္ပဏီ လီမိတက်)သည် ထုတ်လုပ်မှု နည်းပညာ၊ ထုတ်လုပ်မှု အရည်အသွေး၊ Trade Mark ကုန်ပစ္စည်း အမှတ်တံဆိပ် အမည်/အမှတ်အသား၊ ဈေးကွက်ပိုင်းဆိုင်ရာ တို့နှင့် စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။ ၎င်းအပြင် သက်ဆိုင်ရာ ဌာန များ၏ ညွှန်ကြားချက်များ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၁၁။ Diamond Mayson Industries Co., Ltd. (ဒိုင်းမွန်းမေဆမ် အင်ဒတ်စ်ထရီးစ် ကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်းအား ယစ်မျိုးဥပဒေနှင့်အညီ လိုင်စင်ရရှိရန် ဆောင်ရွက်ရမည် ဖြစ်ပြီး ကျန်းမာရေးဦးစီးဌာန၏ ထောက်ခံချက်၊ မြန်မာနိုင်ငံ အစားအသောက် နှင့် ဆေးဝါး ကွပ်ကဲရေး ဦးစီးဌာနတို့၏ ထောက်ခံချက်တို့ကို ရယူ ဆောင်ရွက်ရမည်။

၁၂။ Diamond Mayson Industries Co., Ltd. (ဒိုင်းမွန်းမေဆမ် အင်ဒတ်စ်ထရီးစ် ကုမ္ပဏီ လီမိတက်)မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယား စနစ်တကျ ရှိစေရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၃။ Diamond Mayson Industries Co., Ltd. (ဒိုင်းမွန်းမေဆမ် အင်ဒတ်စ်ထရီးစ် ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ် စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည် ဖြစ်ပြီး မီးသတ် ဦးစီးဌာန ၏ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ နှင့် အမိန့်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင် ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံး ပစ္စည်း များ အသုံးပြုတတ်စေရန် အတွက် သင်တန်းများ ပေးရမည်။

၁၄။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက် ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများ နှင့် အညီ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားမှု အခြေအနေ ကို ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၅။ Diamond Mayson Industries Co., Ltd. (ဒိုင်းမွန်းမေဆမ် အင်ဒတ်စ်ထရီးစ် ကုမ္ပဏီ လီမိတက်)သည် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ သက်ဆိုင်ရာ ပဲခူးတိုင်းဒေသကြီး စက်မှု ကြီးကြပ်ရေး နှင့် စစ်ဆေးရေးဦးစီးဌာန တွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက် ရမည်။

၁၆။ Diamond Mayson Industries Co., Ltd. (ဒိုင်းမွန်းမေဆမ် အင်ဒတ်စ်ထရီးစ် ကုမ္ပဏီ လီမိတက်)သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာ ကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၈။ Diamond Mayson Industries Co., Ltd. (ဒိုင်းမွန်းမေဆမ် အင်ဒတ်စ်ထရီးစ် ကုမ္ပဏီ လီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များ ကို လိုက်နာရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို

တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် ၊ လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းသည်အထိ အရေးယူခြင်း ခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ် အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူ ရမည်။

(ဝင်းရှိန်)

ဥက္ကဋ္ဌ

စာအမှတ်၊ရကာ- ၆(က) /မ- ၁၂၉၅/၂၀၁၄(၃၂၂၈-ဆ)

ရက် စွဲ၊ ၂၀၁၄ ခုနှစ် မတ် လ ၂၄ ရက်

**ဖြန့်ဝေခြင်း -**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ကျန်းမာရေးဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပဲခူးမြို့

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသား မှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာနိုင်ငံ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

